## အပိုင်း ( ၂၀ )
## အနုညာတစီရင် ဆုံးဖြတ်ခြင်း

၂၀။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို တစ်ဖက်တစ်ဦးစီခန့်ထားသောခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက ဖြေရှင်း မဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ အဆုံးအဖြတ်ကိုခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင် နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ခုနှစ်၊ မြန်မာနိုင်ငံအနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ်၄/၁၉၄၄)နှင့် နောက်ပိုင်း ထုတ်ပြန်သောတည်ဆဲပြင်ဆင်ချက်များနှင့်အညီဖြစ်စေရမည်။ အနုညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ နေပြည်တော်ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## အပိုင်း ( ၂၁ )
## စီမံခန့်ခွဲခြင်း

၂၁-၁။ စာချုပ်လက်မှတ်ရေးထိုးပြီးသည်နှင့် နှစ်ဦးနှစ်ဖက်မှ ပူးတွဲစီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းရမည်။

(က) ပူးတွဲစီမံခန့်ခွဲရေးကော်မတီတွင် အဖွဲ့ဝင်(၅)ဦး ပါရှိရမည်ဖြစ်ပြီး၊ သတလ(၂)မှ (၃)ဦးနှင့် ကန်ထရိုက်တာမှ (၂)ဦး အဆိုပြုရမည်။ ဥက္ကဋ္ဌတာဝန်ကို သတလ(၂)မှ ဆောင်ရွက်ရမည်။ ဥက္ကဋ္ဌမှ ကော်မတီအတွင်းရေးမှူးတစ်ဦးဦးကို ခန့်ထားရမည်။

(ခ) ပူးတွဲစီမံခန့်ခွဲရေးကော်မတီတွင်အဖွဲ့ဝင်လစ်လပ်သွားလျှင် ၎င်းနေရာသို့အဆိုပြုထားသည့်ဘက်မှ အစားထိုးအဆိုပြုရမည်။

(ဂ) ပုံမှန်အဖွဲ့ဝင်မှတက်ရောက်နိုင်ခြင်းမရှိက ကိုယ်စားတက်ရောက်နိုင်ရန်အတွက် အလှည့်ကျပူးတွဲစီမံခန့်ခွဲရေး ကော်မတီဝင်(၁)ဦး သို့မဟုတ် ပူးတွဲစီမံခန့်ခွဲရေး ကော်မတီဝင်များကို နှစ်ဦးနှစ်ဖက်မှ ခန့်အပ်ထားရှိရမည်။

(ဃ) ပူးတွဲစီမံခန့်ခွဲရေးကော်မတီအဖွဲ့ဝင် ခန့်အပ်မှုများအား တစ်ဖက်မှတစ်ဖက်သို့ အသိပေးအကြောင်းကြားရမည်။

(င) ကော်မတီသည် နေပြည်တော် သို့မဟုတ် နှစ်ဖက်သဘောတူညီချက်ရရှိထားသော အခြားသင့်လျော်သည့်နေရာတွင် (၃)လတစ်ကြိမ် တွေ့ဆုံညှိနှိုင်းဆွေးနွေးရမည်။

(စ) ကော်မတီဝင်များနှင့် အတွင်းရေးမှူးအတွက် အခကြေးငွေများ သို့မဟုတ် အခြားစရိတ်များကို စီမံခန့်ခွဲရေးကော်မတီမှ သတ်မှတ်အဆိုပြု၍ နှစ်ဖက်အတည်ပြုပြီး ကန်ထရိုက်တာမှ ပေးချေရမည်။

၂၁-၂။ ပူးတွဲစီမံခန့်ခွဲရေးကော်မတီဥက္ကဋ္ဌအား သတလ(၂)မှ အဆိုပြုခန့်ထားရမည်။ ပူးတွဲစီမံခန့်ခွဲရေးကော်မတီဥက္ကဋ္ဌသည် ဖက်စပ်ကုမ္ပဏီ၏ တရားဝင်ကိုယ်စားပြုသူဖြစ်သည်။ ဥက္ကဋ္ဌသည် အကြောင်းတစ်ခုခုကြောင့် ၎င်း၏တာဝန်ဝတ္တရားများအား မဆောင်ရွက်နိုင်ပါက ၎င်း၏ကိုယ်စားဆောင်ရွက်မည့် ပူးတွဲစီမံခန့်ခွဲရေးကော်မတီဝင် တစ်ဦးအား တာဝန်ပေးရမည်။ အဖွဲ့အတွင်း မဲခွဲဆုံးဖြတ်ရန်များရှိ၍ မဲခွဲဆုံးဖြတ်ရာတွင် တစ်ဖက်နှင့်တစ်ဖက် မဲတူညီနေပါက ဥက္ကဋ္ဌ၏အဆုံးအဖြတ်သည် အတည်ဖြစ်ပါသည်။

၂၁-၃။ ကော်မတီအဖွဲ့သည် ကန်ထရိုက်တာ၏ မူ၊ ဦးတည်ချက်၊ လုပ်ထုံးလုပ်နည်းများနှင့် နည်းစနစ်များအား ဆုံးဖြတ်ရမည်ဖြစ်ပြီး၊ အောက်ပါအချက်များနှင့်ပတ်သက်သော အဓိကဆုံးဖြတ်ချက်များအပေါ် တာဝန်ရှိစေရမည်-

(က) ကန်ထရိုက်တာ၏နှစ်စဉ်၊ လစဉ် လုပ်ငန်းအစီအစဉ်များနှင့် လုပ်ငန်းအသုံးစရိတ်များအား အတည်ပြုခြင်း။

(ခ) အထွေထွေမန်နေဂျာမှ တင်ပြသည့် ထုတ်လုပ်မှုစီမံချက်များ၊ နှစ်ပတ်လည် အစီရင်ခံစာများနှင့်ရှေ့လုပ်ငန်း မျှော်မှန်းချက်များ စသည့်အစီရင်ခံစာများအား အတည်ပြုခြင်း။

(ဂ) ထုတ်လုပ်မှုများ၊ တန်ဖိုးတွက်ချက်မှုများ၊ ခွဲဝေမှုများအား အတည်ပြုခြင်း။

(ဃ) ဘဏ္ဍာရေးအစီရင်ခံစာများအား အတည်ပြုခြင်း။

## အပိုင်း (၂၂)
## လုပ်ငန်းများ ကြီးကြပ်ဆောင်ရွက်ခြင်း

၂၂-၁။ ကန်ထရိုက်တာသည် လုပ်ငန်းကာလအတွင်း သတလ(၂)မှ ကိုယ်စားလှယ်နှစ်ဦးထားရှိရန် သဘောတူသည်။ ယင်းကိုယ်စားလှယ်များ နေထိုင်သွားလာရေး၊ စားသောက်ရေးနှင့် စီမံခန့်ခွဲရေးအတွက် တိုင်းအထွေထွေမန်နေဂျာမှ သတ်မှတ်ပေးထားသော လစဉ်ထောက်ပံ့ကြေးငွေများကို ကန်ထရိုက်တာမှ စီမံဆောင်ရွက်ပေးရမည်။

၂၂-၂။ သတလ(၂)ကိုယ်စားလှယ်များအား ဤစာချုပ်ပါ လုပ်ငန်းများနှင့်စပ်လျဉ်း၍ သက်ဆိုင်သော ရုံးလုပ်ငန်းများ ဆောင်ရွက်နိုင်စေရန် ကန်ထရိုက်တာမှပံ့ပိုးရမည်။

၂၂-၃။ သတလ(၂)နှင့်သတ္တုတွင်းဝန်ကြီးဌာနမှ တာဝန်ပေးအပ်ထားသော ပုဂ္ဂိုလ်များသည် လိုအပ်ပါက သင့်လျော်သည့်အချိန်တွင် စာချုပ်အရလုပ်ပိုင်ခွင့်ရှိသောဧရိယာအတွင်း လုပ်ငန်းများ ဝင်ရောက်စစ်ဆေးခွင့်ရှိသည်။ ကန်ထရိုက်တာသည် အထက်ဖော်ပြပါပုဂ္ဂိုလ်များမှ ကန်ထရိုက်တာ၏ လုပ်ငန်းများနှင့် ပတ်သက်သော အတတ်ပညာပိုင်းဆိုင်ရာနှင့် ထုတ်လုပ်မှုလုပ်ငန်းဆိုင်ရာ အချက်အလက် များတောင်းခံလာပါကဆောလျင်စွာကူညီပံ့ပိုးပေးရမည်။ ကိုယ်စားလှယ်များသည် ပုံမှန်လုပ်ငန်းဆောင်ရွက် နေမှုများကို ဝင်ရောက်စွက်ဖက်မှုမျိုး မဖြစ်စေရ။

## အပိုင်း ( ၂၃ )
## ဘဏ်အာမခံငွေ

၂၃-၁။ ကန်ထရိုက်တာသည် ဤစာချုပ်လက်မှတ်ရေးထိုးပြီးနောက် ရက်ပေါင်း(၃၀)အတွင်း ဘဏ်အာမခံငွေအဖြစ် ကျပ်၁၀၀၀၀၀၀၀/(ကျပ်သိန်းတစ်ရာတိတိ)ကိုအမှတ်(၂)သတ္တုတွင်းလုပ်ငန်းအမည်ဖြင့် နိုင်ငံတော်အစိုးရပိုင် မြန်မာ့စီးပွားရေးဘဏ် တစ်ခုခုတွင်ထားရှိရမည်။ ဘဏ်အာမခံငွေကို စာချုပ်သက်တမ်းတိုးမြှင့်သည့်ကာလအထိ (သို့မဟုတ်) ကန်ထရိုက်တာမှ စာချုပ်ပါ တာဝန်ဝတ္တရားများအားလုံး ဆောင်ရွက်ပြီးစီးသည်အထိ စာချုပ်သက်တမ်းတစ်လျှောက် ထားရှိရမည်။

၂၃-၂။ ဤစာချုပ်ပါ သဘောတူညီချက်များအတိုင်း ဆောင်ရွက်ရန် ကန်ထရိုက်တာမှ ပျက်ကွက်ခဲ့လျှင် အပိုင်း(၂၄)ပါအတိုင်း စာချုပ်ကိုရပ်စဲ၍ သတလ(၂)မှဘဏ်အာမခံငွေအားလုံးကို သိမ်းယူနိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ ကန်ထရိုက်တာ၏ အပြစ်ကြောင့်မဟုတ်ဘဲ တစ်စုံတစ်ရာသောအကြောင်းကြောင့် နှစ်ဖက်သဘောတူစာချုပ် ဖျက်သိမ်းလျှင်သော်လည်းကောင်း၊ သတလ(၂)သည် ကန်ထရိုက်တာမှ ပေးရန်ကျန်ရှိသော ကြွေးမြီများကိုနုတ်ယူ၍ ကျန်သောဘဏ်အာမခံငွေကို ကန်ထရိုက်တာသို့ ပြန်ပေးရမည်။ ဘဏ်အာမခံပုံစံမှာ နောက်ဆက်တွဲ(ခ)ပါအတိုင်းဖြစ်သည်။

## အပိုင်း ( ၂၄ )
## စာချုပ်ရပ်စဲခြင်း

၂၄-၁။ ဤစာချုပ်ကို အောက်ဖော်ပြပါ အချက်အလက်များအနက် တစ်ခုခုဖြစ်ပေါ်လာပါက မည်သည့်ဘက်ကမဆို ရက်ပေါင်း(၉၀)ကြိုတင်သတိပေးပြီး၊ သတ္တုတွင်းဝန်ကြီးဌာန၏ အတည်ပြုချက်ဖြင့် စာချုပ်ရပ်စဲနိုင်သည်-

(က) သတ္တုရိုင်း တူးဖော်ထုတ်လုပ်မှုလုပ်ငန်းသည် စဥ်ဆက်မပြတ်အရှုံး ပေါ်ပေါက်နေခြင်း။

(ခ) တစ်ဖက်ဖက်မှ စာချုပ်ပါ စည်းကမ်းချက်များအား ဖောက်ဖျက်ခြင်း။

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုသည် (၆)လထက် ကျော်လွန်၍ ဖြစ်ပွားနေခြင်း။

(ဃ) စာချုပ်ပါ မူလရည်မှန်းချက်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုမရှိခြင်း။

(င) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

၂၄-၂။ ဤစာချုပ်၌ တစ်စုံတစ်ရာ ပါဝင်မှုမရှိစေကာမူ နှစ်ဦးနှစ်ဖက် ညှိနှိုင်းပြီး၊ စာဖြင့်ရေးသားထားသော သဘောတူညီချက်ရယူ၍ စာချုပ်ကိုရပ်စဲနိုင်သည်။ ထိုသို့ စာချုပ်ကိုရပ်စဲသည့်အခါတွင် သတ္တုတွင်းဝန်ကြီးဌာန၏သဘောတူညီချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့်အထက်အဖွဲ့အစည်းတို့၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

၂၄-၃။ စာချုပ်ကိုရပ်စဲခြင်းအားဖြင့် စာချုပ်မရပ်စဲမီ တာဝန်ရှိခဲ့သည့် ကိစ္စရပ်များမှအပ သဘောတူစာချုပ်ပါ ရှေ့ဆက်လက်ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများ၊ လုပ်ပိုင်ခွင့်များ၊ လုပ်ငန်းဆောင်ရွက်ရန်အချက်အလက်များအားလုံး လုံးဝပြီးပြတ်သည်ဟု မှတ်ယူရမည်။

## အပိုင်း ( ၂၅ )
## လျှို့ဝှက်ထိန်းသိမ်းခြင်း

၂၅။ ကန်ထရိုက်တာသည် ဤသဘောတူစာချုပ်ပါအချက်အလက်များ၊ စာချုပ်ပါတာဂန်များ၊ လုပ်ငန်း အစီအစဉ်များနှင့် အခြားပတ်သက်ရာပတ်သက်ကြောင်း သတင်းအချက်အလက်များကို ဥပဒေအရ ခွင့်ပြုထားသည့်ကိစ္စမှအပ လျှို့ဝှက်အဆင့်တွင်ထားရမည်။

## အပိုင်း ( ၂၆ )
## မှတ်တမ်းများ၊ ငွေစာရင်းများနှင့် စာရင်းစစ်ဆေးခြင်း

၂၆-၁။ ကန်ထရိုက်တာသည် ဤစာချုပ်ပါလုပ်ငန်းနှင့် ပတ်သက်သည့်မှတ်တမ်းများ၊ ငွေစာရင်းများ စသည်တို့ကို အများလက်ခံကျင့်သုံးသော စာရင်းဇယားထားသိုနည်းများအရ စာရင်းများထိန်းသိမ်းထား ရှိရန် တာဝန်ရှိသည်။ စာရင်းဇယားများကို မြန်မာဘာသာဖြင့်ထားရှိရမည်။ ကန်ထရိုက်တာ၏ နှစ်ချုပ် စာရင်းများကို ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီး (၃)လအတွင်း အမှတ်( ၂ )သတ္တုတွင်းလုပ်ငန်းသို့ တင်ပြရမည်။

၂၆-၂။ ဤစာချုပ်အရ သတလ(၂)သည် ထုတ်လုပ်မှု သိုလှောင်မှုမှတ်တမ်းများနှင့်ပတ်သက်၍ စစ်ဆေးခွင့် ရှိသည်။

၂၆-၃။ သတလ(၂)သည် လိုအပ်ပါက ပြင်ပမှ စာရင်းစစ်တစ်ဦးကို စစ်ဆေးရန်ခန့်ထားနိုင်သည်။ ယင်းစစ်ဆေးရမည့် ကာလသည် သက်ဆိုင်ရာ ဘဏ္ဍာရေးနှစ် တစ်နှစ်သာဖြစ်သည်။

## အပိုင်း ( ၂၇ )
## မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၂၇-၁။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးအန္တရာယ် ကျရောက်မှု၊ ရေကြောင်းဘေး အန္တရာယ်ကျရောက်မှု၊ သပိတ်မှောက်ခြင်း၊ အလုပ်သမားများ၏နှောင့်ယှက် မှုများ၊ စစ်ဖြစ်ပွားခြင်း၊ ပိတ်ဆို့မှု၊ ဆူပူမှု၊ ကူးစက်တတ်သောရောဂါဖြစ်ပွားမှု၊ မြေပြိုခြင်း၊ လျှော်လှုပ်ခြင်း၊ မုန်တိုင်းကျခြင်း၊ မိုးကြိုးပစ်ခြင်း၊ ရေကြီးခြင်း၊ ရေလွှမ်းမိုးခြင်း၊ ပေါက်ကွဲခြင်းများနှင့် အခြားအလားတူ ထိန်းချုပ်၍ မရနိုင်သောဖြစ်ရပ်များ (သို့မဟုတ်) မည်သည့်ဘက်ကမျှ ကြိုးစားအားထုတ်မှုဖြင့် တားဆီးမရနိုင်သော ဖြစ်ရပ်များပါဝင်သည်။

၂၇-၂။ ဤစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်များ ပျက်ကွက်ခြင်း (သို့မဟုတ်) နှောင့်နှေးကြန့်ကြာမှုများ ဖြစ်ပေါ်လာလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်နှင့်အညီဖြစ်ပါက နှစ်ဦးနှစ်ဖက် ကင်းလွတ်ခွင့်ပြုရမည်။ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် တစ်ဖက်မှ မိမိလိုက်နာဆောင်ရွက်ရမည့် တာဝန်တစ်စိတ်တစ်ဒေသ ကိုဖြစ်စေ၊ အားလုံးကိုဖြစ်စေ ခေတ္တဆိုင်းငံ့ရမည့် အခြေအနေပေါ်ပေါက်လာလျှင် ထိုသို့ဆိုင်းငံ့ထားရမည့်

ဖြစ်ရပ်နှင့် ဖြစ်တန်ရာသည့်ကာလတို့ကို ဖော်ပြလျက် ထိုဖြစ်ရပ် ပေါ်ပေါက်သည့်နေ့မှစ၍ (၁၄)ရက် (တစ်ဆယ့်လေးရက်)အတွင်း နစ်နာသူကအခြားတစ်ဖက်သို့စာဖြင့်အကြောင်းကြားရမည်။ ဤသို့ အကြောင်းကြားခြင်းကို အခြားတစ်ဖက်မှ အတည်ပြုလက်ခံမှသာလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ဖြစ်မြောက်ပြီး ထိုနစ်နာသောအချိန်ကာလအတွက် တာဝန်ဝတ္တရားများ ရပ်ဆိုင်းရမည်။ ထိုမလွန်ဆန်နိုင်သော အခြေအနေကို အမြန်ဆုံး ကျော်လွှားနိုင်အောင် ဆောင်ရွက်ရမည်။

၂၇-၃။ အပိုဒ် ၂၇-၁ပါအတိုင်း မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်မှုကို တစ်ဖက်မှအသိပေးပြီး နှစ်ဦးနှစ်ဖက်အတည်ပြု လက်ခံထားသောဖြစ်ရပ်မှ ပေါ်ပေါက်လာသည့်ကြန့်ကြာမှု၊ ဆုံးရှုံးမှုများအတွက် မည်သည့်ဘက်တွင်မှ တာဝန်မရှိစေရ။

## အပိုင်း ( ၂၈ )
## အခြားဓာတ်သတ္တု ပစ္စည်းများတွေ့ရှိခြင်း

၂၈-၁။ ဤစာချုပ်အရ ခဲမဖြူအဖြိုက်နက်၊ရောရာသတ္တုရိုင်း တူးဖော်ထုတ်လုပ်နေစဉ် ခဲမဖြူအဖြိုက်နက်ရောရာသတ္တုရိုင်းမှအပ အခြားသောဓာတ်သတ္တု ပစ္စည်းများ၊ အဖိုးတန်သတ္တုများဖြစ်သည့် ရွှေ၊ စိန်၊ ကျောက်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများတစ်ခုခုကို မိမိလုပ်ကွက်အတွင်း၌ တူးဖော်တွေ့ရှိပါက ထိုသို့တွေ့ရှိကြောင်း ကန်ထရိုက်တာက သတလ(၂)သို့ ချက်ချင်းအကြောင်းကြားပြီး၊ နိုင်ငံတော်သို့အပ်နှံရမည်။ တူးဖော်တွေ့ရှိသော ခဲမဖြူအဖြိုက်နက်ရောရာ သတ္တုရိုင်းမှအပ အခြားဓာတ်သတ္တုပစ္စည်းများ၊ အဖိုးတန်သတ္တုများဖြစ်သည့် ရွှေ၊ စိန်၊ ကျောက်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများ သည်နိုင်ငံတော်ပိုင်ဖြစ်ပြီး ကန်ထရိုက်တာနှင့် လုံးဝမသက်ဆိုင်စေရ။

၂၈-၂။ အကယ်၍ ကန်ထရိုက်တာသည် ခဲမဖြူအဖြိုက်နက်ရောရာသတ္တုရိုင်းများ တူးဖော်ရန် လုပ်ပိုင်ခွင့်ရရှိသောဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်နေစဉ် ကာလအတွင်း ယူရေနီယံကဲ့သို့ (Radio Active Mineral)သတ္တုများ၊ နိုင်ငံတော်အစိုးရကသာ လုပ်ကိုင်ခွင့်ရှိသော မဟာဗျူဟာမြောက် ဓာတ်သတ္တုများ တွေ့ရှိပါက နိုင်ငံတော်ကသာ လုပ်ကိုင်ခွင့်ရှိသည်။ ယင်းအပြင်အခြားဓာတ်သတ္တုကို တွေ့ရှိရ၍ ယင်းဓာတ်သတ္တုကိုလည်း တူးဖော်လုပ်ကိုင်လိုပါက ဆက်လက်လုပ်ဆောင်လိုသည်များကို ကန်ထရိုက်တာနှင့် သတလ(၂)တို့ညှိနှိုင်း၍ သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်နှင့် အတည်ပြုချက်ဖြင့်သာ ဆက်လက်ဆောင်ရွက်ရမည်။

## အပိုင်း ( ၂၉ )
## လွှဲပြောင်း၍မရနိုင်သော အခွင့်အရေး

၂၉။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍မရနိုင်သော နိုင်ငံတော်၏ မြေပေါ်၊ မြေအောက်၊ ရေပေါ်၊ ရေအောက် သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့်နှင့် မူလဘူတအခွင့်အရေး ကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏ အနုညာတ ဖြေရှင်းရန် တင်ပြသည့် သဘောတူညီချက် အပါအဝင် ဤစာချုပ် ပါ မည်သည့် ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း (သို့မဟုတ်) ကန့်သတ်ခြင်း မပြုနိုင်။

## အပိုင်း ( ၃၀ )

## အထွေထွေ

၃၀-၁။ ဤသဘောတူစာချုပ်သည်သာလျှင်နှစ်ဦးနှစ်ဖက်အတည်ပြုထားသော သဘောတူညီချက်ဖြစ်သည်။ ဤကိစ္စနှင့်ပတ်သက်၍ ယခင်ကနှုတ်ဖြင့်သော်လည်းကောင်း၊ စာဖြင့်သော်လည်းကောင်း သဘောတူညီချက်ရှိခဲ့လျှင် ထိုသဘောတူညီချက်များသည် ဆက်လက်၍ အကျိုးသက်ရောက်မှုမရှိစေရ။

၃၀-၂။ စာချုပ်သက်တမ်းကုန်ဆုံးလျှင်သော်လည်းကောင်း၊ အခြားအကြောင်းတစ်ရပ်ရပ်ကြောင့် လုပ်ငန်းရပ်စဲ၍ စာချုပ်အားဖျက်သိမ်းလျှင်သော်လည်းကောင်း၊ ခဲမဖြူ၊ အဖြိုက်နက်နှင့်ရောရာသတ္တုရိုင်း အကြီးစားထုတ်လုပ်ရန် ခွင့်ပြုမိန့်အား သတလ(၂)သို့ ပြန်လည်အပ်နှံရမည်။ အကယ်၍ သတလ(၂)မှ ခွင့်ပြုမိန့်ပြန်လည်အပ်နှံရန် အကြောင်းကြားသော်လည်း ထုတ်ပေးထားသည့် ခွင့်ပြုမိန့်အား ပြန်လည်အပ်နှံရန်ပျက်ကွက်ပါက ကုမ္ပဏီအား နာမည်ပျက်စာရင်းသွင်းခြင်းခံရမည်။

၃၀-၃။ သတ်မှတ်ခွင့်ပြုထားသောလုပ်ကွက်အတွင်း၌သာ သတ္တုရိုင်းတူးဖော်နိုင်သည်။

၃၀-၄။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အကြောင်းကြားစာနှင့် အခြားဆက်သွယ်မှုများကို စာတိုက်၊ စကားပြောကြေးနန်း၊ တဲလက်စ်၊ ဖက်ဆီမိုင်း၊ ကြိုးမဲ့ကြေးနန်း၊ ကြေးနန်းတို့ဖြင့် ပေးပို့သူက ကျသင့်ငွေကြိုတင်ပေးချေ၍ ပေးပို့ရမည်။ ထိုသို့ဆက်သွယ်ရာတွင် အောက်ဖော်ပြပါ လိပ်စာများအတိုင်း ဆက်သွယ်ဆောင်ရွက်ရမည်-

| သတလ(၂) | ကန်ထရိုက်တာ |
|---|---|
| ဦးတင်မောင်ဌေး | ဦးစိုင်းသန်းအောင် |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေးဂျင်းဒါရိုက်တာ |
| အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | ငွေကမ္ဘာမြန်မာကုမ္ပဏီလီမိတက် |
| နေပြည်တော် | အမှတ်(၈၀)၊ မြေညီထပ်၊ (၅၀)လမ်း၊ |
| | ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့ |

၃၀-၅။ တစ်ဖက်မှ တစ်ဖက်သို့ ဆက်သွယ်သောစာများကို လက်ခံရရှိကြောင်း ပြန်ကြားရပါမည်။

### စာချုပ်အား လွှဲပြောင်းခြင်း

၃၀-၆။ ကန်ထရိုက်တာသည် သတလ(၂)နှင့် သတ္တုတွင်းဝန်ကြီးဌာန၏ ကြိုတင်သဘောတူခွင့်ပြုချက်မရဘဲ၊ ဤသဘောတူစာချုပ်ပါ တာဝန်ဝတ္တရားအားလုံးအား အခြားပုဂ္ဂိုလ်အဖွဲ့အစည်းများသို့ လွှဲပြောင်းခြင်း (သို့မဟုတ်) လုပ်ငန်းတစ်စိတ်တစ်ဒေသကို အပ်နှံဆောင်ရွက်စေခြင်းတို့ကို မပြုလုပ်ရ။

**စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

၃၀-၇။ ဤသဘောတူစာချုပ်အား စာချုပ်ဝင်နှစ်ဖက်စာဖြင့် သဘောတူညီမှုမပါဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ စာချုပ်ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများသည် သတ္တုတွင်းဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့်သာ အတည်ဖြစ်စေရမည်။ ယင်းပြင်ဆင်ဖြည့်စွက်ချက်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မှတ်တမ်းတင်နိုင်ရန် ပေးပို့ဆောင်ရွက်ရမည်။

**စာချုပ်အားပြန်လည်ညှိနှိုင်းခြင်း**

၃၀-၈။ သဘောတူစာချုပ်သက်တမ်းအတွင်း၌ ကန်ထရိုက်တာနှင့် သတလ(၂)တို့ ကြိုတင်မမျှော်မှန်းနိုင်သောအခြေအနေတစ်ခုခု ပေါ်ပေါက်လာသည့်အပြင် လုပ်ငန်းလိုအပ်ချက်အရ စာချုပ်ပြင်ဆင်ရန်လိုအပ်ပါက နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် ဤစာချုပ်ကို ပြင်ဆင်နိုင်သည်။ သို့သော် သဘောတူစာချုပ်၏ မူလရည်ရွယ်ချက်အား ပျက်ပြယ်သွားခြင်းမရှိစေရ။

၃၀-၉။ ဤသဘောတူစာချုပ်တွင် ပူးတွဲပါရှိသော နောက်ဆက်တွဲများအားလုံးသည် ဤစာချုပ်၏အစိတ်အပိုင်းတစ်ရပ်ဖြစ်စေရမည်။

## အပိုင်း ( ၃၁ )
## အကျိုးသက်ရောက်မှု

၃၁။ ဤသဘောတူစာချုပ်သည် သဘောတူစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ သက်ဝင်အကျိုးသက်ရောက်ရမည်။

## အပိုင်း ( ၃၂ )
## အစစ်အမှန်ဖြစ်ခြင်း

၃၂။ ဤသဘောတူစာချုပ်အား မြန်မာဘာသာဖြင့်ရေးသားပြီး မူရင်း(၂)အုပ်သာရှိ၍ တစ်ဖက်စီ၌ တစ်အုပ်စီရှိရမည်။ စာချုပ်မိတ္တူကို လိုအပ်ပါက အစိုးရရုံးအဖွဲ့အစည်းများနှင့်ဆက်သွယ်ရာတွင် သုံးစွဲခွင့်ရှိသည်။

ဤသဘောတူစာချုပ်ကို အထက်တွင်ဖော်ပြထားသော ရက်၊ လနှင့် ၂၀၁၂ ခုနှစ်တွင် အောက်ပါအတိုင်း နှစ်ဦးနှစ်ဖက်သဘောတူလက်မှတ်ရေးထိုးကြပါသည်-

| **အမှတ်(၂)သတ္တုတွင်းလုပ်ငန်း(ကိုယ်စား)** | **ကန်ထရိုက်တာ(ကိုယ်စား)** |
|---|---|
| ဦးတင်မောင်ဌွေး | ဦးစိုင်းသန်းအောင် |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေးဂျင်းဒါရိုက်တာ |
| အမှတ်(၂)သတ္တုတွင်းလုပ်ငန်း | ငွေကမ္ဘာမြန်မာကုမ္ပဏီလီမိတက် |
| နေပြည်တော် | အမှတ်(၈၀)၊ မြေညီထပ်၊ (၅၀)လမ်း |
| | ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့ |

**ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးပါသည်၊**

**အသိသက်သေများ**

| (၁) | (၂) |
|---|---|
| လက်မှတ် .......................... | လက်မှတ် .......................... |
| အမည် .......................... | အမည် .......................... |
| မှတ်ပုံတင် .......................... | မှတ်ပုံတင် .......................... |
| ရာထူး .......................... | ရာထူး .......................... |
| ဌာန .......................... | ဌာန .......................... |

တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံ ကဇတ်ဒေသတွင် ငွေကမ္ဘာမြန်မာ
ကုမ္ပဏီလီမိတက်မှ ခဲမဖြူ၊ အဖြိုက်နက်ရောရာသတ္တုရိုင်းအကြီးစား တူးဖော်ခွင့်လျှောက်ထားသည့်
ယမုံ ကဇတ်လုပ်ကွက်၏ဧရိယာ အကျယ်အဝန်းနှင့်တည်နေရာပြမြေပုံ

နောက်ဆက်တွဲ(က-၁)




| | | | | |
|---|---|---|---|---|
| A - 724330 | B - 724362 | C - 729362 | D - 729367 | E - 734367 |
| F - 734370 | G - 730370 | H - 733375 | I - 727375 | J - 740405 |
| K - 760405 | L - 760389 | M - 749389 | N - 749391 | O - 745391 |
| P - 745379 | Q - 749379 | R - 749388 | S - 760388 | T - 760367 |
| U - 744367 | V - 744364 | W - 742364 | X - 742358 | Y - 739358 |
| Z - 739355 | AA - 736355 | AB - 736349 | AC - 739349 | AD - 739330 |

**စကေး ၁ လက်မ = ၄၅၀၀ ပေ**

**မြေပုံညွှန်း 95 L/11,12**

နောက်ဆက်တွဲ

MYANMAR ECONOMIC BANK
NAY PYI TAW BANK

To
ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း
သတ္တုတွင်းဝန်ကြီးဌာန
နေပြည်တော်

Date

Dear Sir,

Our Letter Guarantee No ..........

Dated ........ for K - ..........

At the request of ..........

We MYANMAR ECONOMIC BANK do hereby agree to pay you against the guarantee the sum of K- ..........(Kyats .......... ) being the performance Bank Guarantee in respect of the Contract No .......... Dated ..........

This Performance Bank Guarantee will remain in force for the period of ( ) year with affect from the ..........

And our liability there under will expire on ..........

Your Faithfully,

MYANMAR ECONOMIC BANK NAY PYI TAW

Asst: Manager          Asst: General Manager

## COUNTER IDEMNITY

In Consideration of your issuing a Guarantee as mentioned above we hereby undertakes to hold you harmless from any claims, losses, costs, charges and expenses, which may arise by reason of your so doing.

We herby authorize you to debit to our Account No .......... with MYANMAR ECONOMIC BANK NAY PYI TAW BANK, for the commission and charges in connection with this Guarantee.

We also undertake to provide you with necessary. Foreign Exchange Permit to cover the Guarantee issued.

To be signed by applicant




# NGWE KABAR MYANMAR CO.,LTD.

No. (80), Ground Floor, 50th Street, Pazundaung Tsp, Yangon, Myanmar.
(Tel) : 95-1-700942, 201689, (Fax) : 95-1-201670
Myeik Office (Tel) : 95-59-41812, 41813, 41939, 09-8770661
E-mail : vantage-mine@myanmar.com.mm, vantage.yangoonmy@gmail.com
Website : http;//www.vantagemyanmar.com

## ဂတိဝန်ခံချက်

သတ္တုတွင်းဝန်ကြီးဌာန၊ အမှတ်(၂)သတ္တုတွင်းလုပ်ငန်းနှင့် ငွေကဗ္ဗာမြန်မာကုမ္ပဏီလီမိတက်သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်ရှိ အသေးစားလုပ်ကွက်များအား ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားသောစနစ်ဖြင့် ခဲမဖြူ-အဖြိုက်နက်ရောရာသတ္တုများကို အကြီးစားသတ္တုတူးဖော်ထုတ်လုပ်မှုလုပ်ငန်းအဖြစ် ပြောင်းလဲထုတ်လုပ်သွားမည်ဖြစ်သည်။

အကြီးစားသတ္တုတူးဖော်ထုတ်လုပ်ခွင့်ရရှိပါက ကုမ္ပဏီမှစက်ယန္တရားအင်အားဖြင့် တစ်နှစ်လျှင် သတ္တုတန်ချိန် (၁၀၀) မက်တန်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း ဝန်ခံဂတိပြုအပ်ပါသည်။

အကယ်၍ လျာထားချက်အတိုင်းတန်(၁၀၀)ထုတ်လုပ်နိုင်ခြင်းမရှိပါကသတ်မှတ်ထားသော နိုင်ငံတော်သို့ပေးသွင်းရမည့် အချိုးအစားအား အမှတ်(၂) သတ္တုတွင်းလုပ်ငန်း၊ သတ္တုတွင်းဝန်ကြီးဌာန၏ မူဘောင်အတွင်းမှ ငွေ (သို့ ) ပစ္စည်းအားပေးသွင်းပါမည်ဟု ဝန်ခံဂတိပြုပါသည်။

လေးစားစွာဖြင့်

U Sai Than Aung
Managing Director
Ngwe Kabar Myanmar Co., Ltd.



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
**ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေးဦးစီးဌာန**
နေပြည်တော်

စာအမှတ်၊ ၄၇၉၁ /၁၃၉၁ / ဘစမ/၂၀၁၁
ရက်စွဲ၊ ၂၀၁၁ ခုနှစ် နိုဝင်ဘာလ ၂ ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၂)သတ္တုတွင်းလုပ်ငန်း

အကြောင်းအရာ။ **သတ္တုသိုက်တန်ချိန်ပမာဏစိစစ်ပြန်ကြားခြင်း**
ရည်ညွှန်းချက်။ အမှတ်(၂)သတ္တုတွင်းလုပ်ငန်း၏ ၁၄.၁၁.၂၀၁၁ ရက်စွဲပါစာအမှတ်၊ ၁၂၈၉/ ခဲမဖြူ-အဖြိုက်-အကြီး (ယမုံကဇတ်)/ ၂၀၁၁

၁။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ကျွန်းစုမြို့နယ် ယမုံ-ကဇတ်ဒေသ ယမုံ-ကဇတ်လုပ်ကွက် မြေပုံညွှန်း ၉၅ အယ်လ် ၁၁၊၁၂ ရှိလုပ်ကွက် ၁၆ ကွက်တွင် ခဲမဖြူ-အဖြိုက်နက် အကြီးစားထုတ်လုပ်ခွင့်ပြုပါရန် ငွေကမ္ဘာမြန်မာနှင့်လေးကျွန်းမြင့်မိုရ်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်တို့မှ တင်ပြလာသည့် စမ်းသပ်တိုင်းတာရေး အစီရင်ခံစာအား ဤဦးစီးဌာန၏ ကျွမ်းကျင်မှုကော်မတီမှ စိစစ်ခဲ့ပါသည်။

၂။ ကုမ္ပဏီမှတင်ပြလာသည့်အစီရင်ခံစာစိစစ်ချက်အရ လေးကျွန်းမြင့်မိုရ်မှ ထုတ်လုပ်ခွင့်ရလုပ်ကွက် ၄ ကွက်၊ စမ်းသပ်တိုင်းတာခွင့်ပြုမိန့်ရလုပ်ကွက် ၅ ကွက်၊ ငွေကမ္ဘာမြန်မာကုမ္ပဏီမှစမ်းသပ်တိုင်းတာခွင့် လျှောက်ထားသော လုပ်ကွက် ၆ ကွက်နှင့် လေးကျွန်းမြင့်မိုရ်ကုမ္ပဏီမှ ယမုံ-ကဇတ် အကြီးစားထုတ်လုပ်မှုလျှောက်ထားလုပ်ကွက် ၁ ကွက်ပေါင်း စုစုပေါင်းလုပ်ကွက် ၁၆ ကွက်ပေါင်းစပ်ကာ အကြီးစားထုတ်လုပ်ခွင့် တင်ပြလာခြင်းဖြစ်ပါသည်။

၃။ ကုမ္ပဏီမှ လျှောက်ထားသည့် ယမုံ-ကဇတ်ဒေသများတွင် ဤဦးစီးဌာနမှ ၁၉၇၂၊ ၁၉၇၅၊ ၁၉၇၈၊ ၁၉[illegible] နှင့် ၁၉၈၂ ခုနှစ်များတွင် ခဲမဖြူ-အဖြိုက်နက် အသေးစိတ်စမ်းသပ်တိုင်းတာရေးလုပ်ငန်းများကို ဆောင်ရွက်ခဲ့ပြီး အောက်ပါအတိုင်း တန်ချိန်တွက်ချက်ခဲ့ပါသည်-

| စဉ် | လုပ်ကွက်အမည် | ပျမ်းမျှခဲမဖြူပါဝင်နှုန်း (lb/cu.yd) | သန့်စင်ခဲမဖြူသတ္တု (တန်) | သေချာမှုအဆင့် | မှတ်ချက် |
|---|---|---|---|---|---|
| ၁။ | ယမုံ(တောင်) | ၀.၅၂ | ၁၄၁၀ | (သ-၂) | ဦးတင့်အောင် ၁၉၇၈.၇၉ |

I-D:\Ma Nilo\Chemical reserve.doc

| စဥ် | လုပ်ကွက်အမည် | ပျမ်းမျှခဲမဖြူ ပါဝင်နှုန်း (lb/cu.yd) | သန့်စင်ခဲမဖြူသတ္တု (တန်) | သေချာမှုအဆင့် | မှတ်ချက် |
|---|---|---|---|---|---|
| ၂။ | ယမုံ(တောင်)တိုးချဲ့ | ၀.၂၇ | ၁၂၁ | (သ-၂) | ဦးတင့်အောင် ၁၉၇၈.၇၉ |
| ၃။ | ယမုံ(မြောက်) | ၀.၂၇ | ၃၅၀ | (သ-၂) | ဦးတင့်အောင် ၁၉၇၉.၈၀ |
| ၄။ | ကဇတ် | ၀.၂၆ | ၄၃၉ | (သ-၂) | ဦးစိုးမြင့်အောင် ၁၉၈၂ |
| ၅။ | မကန်တောင် | ၀.၃၁ | ၂၉ | (သ-၂) | ဦးတိုးအောင်ကျော် ၁၉၈၃ |
| ၆။ | သုံးမြွောင့်ဆိုင် ပဂ္ဂမာတိုက် | ၀.၀၇% | ၃၂ | (သ-၃) | ဦးတိုးအောင်ကျော် ၁၉၈၄ |
| | | စုစုပေါင်း | ၂၃၈၁ | | |

၄။ အစီရင်ခံစာတွင် ကုမ္ပဏီမှ ပြန်လည်စမ်းသပ်တိုင်းတာရေး ဆောင်ရွက်ခဲ့ရာတွင် ဘန်ကာလွန်တွင်း ၃၀ တွင်း တူးဖော်၍ စုစုပေါင်း တန်ချိန် ၃၄၄၂ တန်တွက်ချက်ဖော်ပြထားပါသည်။ကုမ္ပဏီအစီရင်ခံစာတွင် ၁၉၃၆-၃၇ နှစ် အတွင်း ထုတ်လုပ်ခဲ့မှု ၃၆၅ တန်နှင့် ၁၉၈၁-၈၃ အတွင်း ထုတ်လုပ်ခဲ့မှု ၂၈၇ တန်ဖြစ်ကြောင်းဖော်ပြထားရာ စုစုပေါင်း ၆၅၂ တန်ထုတ်လုပ်ခဲ့ပြီး ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ဌာနမှ အဆိုပါ ယမုံ-ကဇတ်ဒေသ၏ အသေးစိတ်တိုင်းတာတွက်ချက်ခဲ့သည့် ခဲမဖြူ ၀.၀၇ % မှ ၀.၅၂ (lb/cu.yd) ပါဝင်သော ခဲမဖြူသတ္တုသားတန်ချိန် ၂၃၈၁ တန်မှ အစီရင်ခံစာပါ ကုမ္ပဏီမှ ထုတ်လုပ်ပြီး တန်ချိန် ၆၅၂ တန် ထုတ်နှုတ်မှုအရ လက်ကျန်တန်ချိန်မှာ ၁၇၂၉ တန်ခန့်ရှိနိုင်ကြောင်း ပြန်ကြား အပ်ပါသည်၊

(ဒေါက်တာရဲမြင့်ဆွေ)
ညွှန်ကြားရေးမှူးချုပ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## သတ္တုတွင်းဝန်ကြီးဌာန

## ဝန် ကြီး ရုံး

နေပြည်တော်

စာအမှတ်၊ ၈ - ရုံးအဖွဲ့ ၁၂ EC ( ၁၄,၀၉ . )

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီလ ရက်

သို့

ညွှန်ကြားရေးမှူးချုပ်/ ဦးဆောင်ညွှန်ကြားရေးမှူး

ဦးစီးဌာန/လုပ်ငန်းအားလုံး

(၂) ၁၁ ကလ

အကြောင်းအရာ။ <u>သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ (၅/၂၀၁၂) ကြိမ်မြောက် အစည်းအဝေး ကောက်နုတ်ချက် ပေးပို့ခြင်း</u>

၁။ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၃) ရက်နေ့တွင် ကျင်းပသော သတ္တုတွင်းဝန်ကြီးဌာန၊ စီမံခန့်ခွဲရေး ကော်မတီ၏ (၅/၂၀၁၂) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်းမှ ဝန်ကြီးလမ်းညွှန်ချက်နှင့် ကောက်နုတ်ချက်မိတ္တူကို ဆက်လက် ဆောင်ရွက်နိုင်ရန် <u>ပူးတွဲ</u> ပေးပို့ပါသည်။

၂။ ဦးစီးဌာန/လုပ်ငန်းများမှ အရေးယူဆောင်ရွက်ပြီးစီးမှုကို ပြန်လည်တင်ပြရန် အကြောင်းကြားသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

သတ္တုတွင်းဝန်ကြီးဌာန

(မင်းမင်းဦး၊ ရုံးအဖွဲ့မှူး)

၂၄/၂/၁၂

စနစ်တကျ ဆောင်ရွက်နိုင်အောင် အားပေးကူညီရမည်ဖြစ်ကြောင်း၊ လုပ်ငန်းရှင်များသည် သတ္တုထုတ်လုပ်မှု များများ ထုတ်လုပ်ရန်၊ မှန်မှန်ကန်ကန် လုပ်ကိုင်ရန်၊ နိုင်ငံတော်သို့ ပေးသွင်းရမည့် အချိုးနှင့် အခွန်အခများ အပြည့်အဝ ပေးသွင်းနိုင်ရန် ဝိုင်းဝန်းပံ့ပိုးကူညီ ဆောင်ရွက်ပေးသွားရမည်ဖြစ်ကြောင်း၊ (၄၉)ကြိမ်မြောက် မြန်မာ့ကျောက်မျက်ရတနာပြပွဲကို (၉.၃.၂၀၁၂) ရက်နေ့မှ (၁၈.၃.၂၀၁၂) ရက်နေ့အထိ ကျင်းပပြုလုပ်မှာဖြစ်၍ ခမ်းခမ်းနားနား စည်စည်ကားကား အောင်အောင် မြင်မြင် ဖြစ်အောင် ဝိုင်းဝန်းလုပ်ကိုင် ဆောင်ရွက်ရန်ဖြစ်ကြောင်း၊ ယခင်ပြပွဲတွင် ဝယ်ယူထားသောပစ္စည်းများ မပျက်စီးသင့်တာ မပျက်စီးအောင် ထိန်းသိမ်းပြီး ဆက်လက် သုံးစွဲရန်လိုကြောင်း၊ မလိုအပ်တာ မလုပ်ရန်၊ မကုန်သင့်တာကို မကုန်စေရန်ဖြစ်ကြောင်း၊ ကုန်သင့်ကုန်ထိုက်တာ ကုန်ကျစေသော်လည်း ခြိုးခြံချွေတာ သုံးစွဲရန်လိုကြောင်း၊ သေသေချာချာ စိစိစစ်စစ်ဖြင့်ဆောင်ရွက်ပြီး ပြပွဲတစ်ပွဲထက်တစ်ပွဲကောင်းအောင်ဆောင်ရွက်သွားကြရန်ဖြစ်ကြောင်း၊ ဦးစီးဌာန/လုပ်ငန်းများ တာဝန်ရှိသူများနှင့် ပြပွဲတွင် တာဝန်ရှိသူများသည်လည်း သေသေချာချာ စစ်ဆေး မှာကြားရန်လိုကြောင်း ပြောကြားပါသည်။

| | ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|---|
| ၅။ | အစည်းအဝေးမှ ဝန်ကြီး၏ လမ်းညွှန်မိန့်မှတ်ချက်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။ | ဦးစီးဌာန/လုပ်ငန်း အားလုံး |

| စဉ် | တင်ပြချက် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁။ | **မှတ်တမ်းတင်ခြင်း**<br>သတ္တုတွင်း ဝန်ကြီးဌာနရှိ လုပ်ငန်းများ၏ ၂၀၁၂ ခုနှစ်၊ ဇန်နဝါရီလအတွက် လျာထားချက်၊ ထုတ်လုပ်မှုနှင့် ထုတ်လုပ်နိုင်မှုရာခိုင်နှုန်း အခြေအနေများကို မှတ်တမ်းတင် ပေးနိုင်ပါရန် တင်ပြခြင်း။ | - မှတ်တမ်းတင်သည်။ | လုပ်ငန်း အားလုံး |
| ၁။ | **အတည်ပြုခြင်း**<br>သတ္တုတွင်း ဝန်ကြီးဌာန၊ စီမံခန့်ခွဲရေး ကော်မတီ၏ ( ၄/၂၀၁၂ ) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်းအား အတည်ပြုရန် တင်ပြခြင်း။ | - အတည်ပြုသည်။ | ဦးစီးဌာန လုပ်ငန်း အားလုံး |
| ၁။ | **ဆုံးဖြတ်ခြင်း**<br>ခဲမဖြူ အဖြိုက်နက်နှင့် ရောရာ သတ္တု အကြီးစား တူးဖော် ထုတ်လုပ်ခွင့် ပြုပါရန် တင်ပြခြင်း။ | - ငွေကမ္ဘာမြန်မာကုမ္ပဏီလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ကျွန်းစုမြို့နယ်၊ ယမုံကဇတ်ဒေသ၌ မြေဧရိယာ (၁၇၂၇.၂၃) ဧကတွင် အဆိုပြုငွေ ကျပ် သိန်း(၅၀၀)၊ ဘဏ် အာမခံငွေကျပ်သိန်း (၁၀၀)၊ တစ်နှစ်လျှင် သတ္တု သန့်စင် တန် (၁၀၀) ထုတ်လုပ်ရန်ကတိဝန်ခံချက်ဖြင့် ခဲမဖြူအဖြိုက်နက်နှင့် ရောရာသတ္တု အကြီးစား တူးဖော် ထုတ်လုပ်ခွင့် ရရှိရေးအတွက် သက်ဆိုင်ရာ ကုမ္ပဏီအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြသွားရန်။ | (၂)သတ |

နောက်ဆက်တွဲ

MYANMA INVESTMENT AND COMMERCIAL BANK

BANK STATEMENT

Account No: FDT100522
Name of Account: NGWE KABAR MYANMAR CO., LTD
Address: NO.80,G FLOOR 50TH ST,PAZAUNDAUNG T/S,YANGON MYAN

Bank Statement for the month of : From 01/09/2012 To 09/09/2012

| Date | Particular | Chq; No. | C/T/L | CUR | Debit | Credit | Balance |
|---|---|---|---|---|---|---|---|
| | BALANCE FORWARD | | | USD | | | 187.74 |
| 03/09/2012 | NGWE KABAR MYANML | | TRF | USD | | 128,000.00 | 128,187.74 |
| 03/09/2012 | NGWE KABAR MYANML | | TRF | USD | | 100,000.00 | 228,187.74 |
| 03/09/2012 | NGWE KABAR MYANML | | TRF | USD | | 100,000.00 | 328,187.74 |
| 03/09/2012 | NGWE KABAR MYANML | | TRF | USD | 11.39 | | 328,176.35 |
| 03/09/2012 | NGWE KABAR MYANML | | TRF | USD | 11.39 | | 328,164.96 |
| 03/09/2012 | NGWE KABAR MYANML | | TRF | USD | 11.39 | | 328,153.57 |
| 05/09/2012 | NGWE KABAR MYANML | | TRF | USD | | 154,000.00 | 482,153.57 |
| '09/2012 | NGWE KABAR MYANML | | TRF | USD | | 100,000.00 | 582,153.57 |
| ,09/2012 | NGWE KABAR MYANML | | TRF | USD | 11.44 | | 582,142.13 |
| 05/09/2012 | NGWE KABAR MYANML | | TRF | USD | 11.44 | | 582,130.69 |
| | Grand Total | | | | 57.05 | 582,000.00 | |

Unless the Bank is immediately notified of any discrepancy found in the statement of account, it will be taken that the account has been found to be correct.

TRANSACTION CODE

CSH = CASH
TRF = TRANSFER
CLG = CLEARING
Number Of Debit =5
Number Of Credit =5

MANAGER

ASST. MANAGER







No.615/1, Pyay Road,
Kamayut Township,
Yangon, Myanmar.
Tel: (+951) 538 075-76,
538 078-80
Fax: (+951) 538 069-71

[redacted]

*No. 0141130000912* — *Dated ,26 March , 2012*

To,

NGWE KABAR MYANMAR CO.,LTD

NO.80,GROUND FLOOR,50TH STREET
PAZUNDAUNG, YANGON

**DEAR SIR,**

We hereby certify that the balance standing at the credit of the account of NGWE KABAR MYANMAR CO.,LTD ( 0141130000912) with the KANBAWZA BANK Ltd. Pazundaung Branch at the close of business on the(26 March, 2012) was K 311,010,000.00(Three hundred Eleven million en thousand only).

**Yours Faithfully**

26-3-12






သက်သေခံကတ်ပြားအမှတ် –

လက်ဝဲ လက်မပုံ

အလုပ်အကိုင် –

နေရပ်လိပ်စာ –

ထိုးမြဲလက်မှတ် –

မှတ်ချက်။ (၁) ခရီးသွားသည့်အခါ တစ်ပါတည်း ယူဆောင်သွားရမည်။

(၂) ပျောက်ဆုံး ပျက်စီးသည့်အခါ သက်ဆိုင်ရာ ပြည်သူ့ရဲစခန်း၊ မြို့နယ် လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဦးစီးဌာနမှူးရုံး ထံသို့ သတင်းပေးပို့ရမည်။

ဦးစိုင်းသန်းအောင် - ၁၂/မရက(နိုင်)၁၂၂၅၁၉

သက်တမ်းတိုး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ 000291

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၃၈၃....../ ၁၉၉၉- ၂၀၀၀

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရငွေကုမ္ပဏာ မြန်မာ ကုမ္ပဏီလီမိတက် ..........

.............................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၁၉၉၉. နှစ်၊ ဇူလိုင်.......လ၊ ..၈...ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား ..၂၀၁၂နှစ်၊ ..ဇန်နဝါရီ...လ၊ ..၁၉ ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ရောင်းဝယ်/ထုတ်လုပ်မှု ✓
PRODUCTION

( အေးကို )
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..................383........ of 1999- 2000

I hereby certify that tenure of ........NGWE KABAR MYANMAR COMPANY LIMITED ..........incorporated under the Myanmar Companies Act on ..........8-7-1999.......... is renewed affected from ..........19-1-2012..........

စက်ရုံအလုပ်ရုံတည်ရှိရာအရပ်သည် စက်မှုလက်မှုဇုံတွင်ဖြစ်စေရမည် (သို့မဟုတ်) လူနေရပ်ကွက်နှင့်ကင်း လွတ်ရာအရပ်၌ဖြစ်စေရမည်။

( AYE KO )
Director General
Directorate of Investment and Company Administration



# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)
Return of allotment from the 5th of August, ~~200~~ 1999
on the 5th of August ~~200~~ 1999 of the *NGWE KABAR MYANMAR COMPANY LIMITED.
Made pursuant to Section 104(1)
Number of the shares allotted payable in cash ..... 1080 Shares
" " " " .....

Nominal amount of the shares so allotted .... Ks.108,000,000/-
" " " " .....

Amount paid or due and payable on each such share ..... Ks.100,000/-
" " " " ....(Fully Paid Up)
Number of ordinary shares allotted for a consideration other than cash
Nominal amount of the ordinary shares so allotted .....
Amount to be treated as paid on each such share .....
The consideration for which such share have been allotted is as follows:-

---

**NOTE:** In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : NGWE KABAR MYANMAR CO.,LTD.

Presented by : U Sai Than Aung

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Sai Than Aung | Myanmar 12/Ma Ya Ka (Naing)[illegible] | No.37,Block No.30,Shwe Pyi Thar Township,Yangon. | Merchant | Appointed as Managing Director w.e.f(5.8.99) |
| 2. Daw Nan Yin | Myanmar 12/Ma Ya Ka (Naing)122520 | No.37,Block No.30,Shwe Pyi Thar Township,Yangon. | Merchant | Appointed as Director w.e.f(5.8.99) |
| 3. U Sai Seng | Myanmar 13/[illegible] Na (Naing)134[illegible]6 | No.37,Block No.30,Shwe Pyi Thar Township,Yangon. | Merchant | Appointed as Director w.e.f(5.8.99) |
| 4. U Sai Mon | Myanmar 12/Ma Ya Ka (Naing)000115 | No.37,Block No.30,Shwe Pyi Thar Township,Yangon. | Merchant | Appointed as Director w.e.f(5.8.99) |
| 5. Daw Nan Kham Ohn | Myanmar 13/Ta Ka Na (Naing)003849 | No.37,Block No.30,Shwe Pyi Thar Township,Yangon. | Merchant | Appointed as Director w.e.f(5.8.99) |
| 6. Daw Su Wai Hnin | Myanmar 12/Ma Ya Ka (Naing)132216 | No.37,Block No.30,Shwe Pyi Thar Township,Yangon. | Merchant | Appointed as Director w.e.f(5.8.99) |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of" and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ....................

U Sai Than Aung
Managing Director
Ngwe Kabar Myanmar Co.,Ltd.

Designation ....................

Dated this 5.8.1999.

ငွေကျပ်၁ မြန်မာ၁ကု ဖွဲ့စည်းပုံ ပိုင်ကြောင်း Card-2-

| | |
|---|---|
| 1. Name and Address of Enterprise<br>လုပ်ငန်းအမည်နှင့် လိပ်စာ<br>~~THIT THANT SIN CO,LTD.~~<br>NO.80,GROUND FLOOR,50th STREET,<br>PAZUNDAUNG T/S,YANGON. | 4. Registration No. & Date 6 / 09 / 1999<br>ကြိုးကြပ်အမှတ်နှင့် နေ့စွဲ HTA THA KA-11925<br>Union of Myanmar<br>Ministry of Commerce<br>Directorate of Trade<br>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ<br>စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန<br>ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန<br>CERTIFICATE OF EXPORTER/IMPORTER REGISTRATION<br>ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင် မှတ်ပုံတင်လက်မှတ် |
| 2. Contact No. ဆက်သွယ်ရန်<br>700942<br>Telephone No. တယ်လီဖုန်းနံပါတ် / Fax No. ဖက်စ်နံပါတ် / Telex No. တဲလက်စ်နံပါတ် | |
| 3. Business Registration No383/1999-2000(8-7-99)<br>လုပ်ငန်းမှတ်ပုံတင်အမှတ် | Note: ☐ Please tick ( ✓ ) where applicable<br>သက်ဆိုင်ရာအကွက်ကိုအမှန် အမှတ်အသားပြုပါ |

5. Type of Business လုပ်ငန်းအမျိုးအစား

☐ a) Sole Proprietorship တစ်ဦးတည်းပိုင်
☐ b) Partnership အစုစပ်
☐ c) Limited Company (Myanmar or Foreign) လီမိတက်ကုမ္ပဏီ (မြန်မာ/ နိုင်ငံခြား)
☐ d) Co-operative Society သမဝါယမအသင်း
☐ e) Others (please specify) INDUSTRIAL PRODUCTION
အခြား (ဖော်ပြရန်) ကျောက်ပါလုပ်ငန်း (၄) မျိုး ဆောင်ရွက်ခွင့်ရှိသည်။

6. Terms and Conditions စည်းကမ်းချက်များ

I hereby register the above mentioned enterprise as Exporter / Importer subject to the following terms and conditions:
အောက်ဖော်ပြပါ စည်းကမ်းချက်များဖြင့် ထုတ်ကုန်သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။

(a) Line of goods permitted - all items except prohibited and restricted items.
ခွင့်ပြုသည့်ကုန်ပစ္စည်းအမျိုးအမည် တားမြစ်ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကျန်ပစ္စည်းများအားလုံး

(b) The enterprise must abide by the Export/ Import Rules and Regulations prescribed for the registered Exporters/Importers.
လုပ်ငန်းရှင်သည် မှတ်ပုံတင် ထုတ်ကုန်သွင်းကုန်လုပ်ငန်း လုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။

(c) The registration is valid for THREE year(s) up to 6-9-1999 TO 5-9-2002
မှတ်ပုံတင်သက်တမ်း နှစ် နေ့ထိ

XXXXX XXXXX XXXXX

For DIRECTOR GENERAL
ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(AYE MU-ASSISTANT DIRECTOR) (လက်ထောက်ညွှန်ကြားရေးမှူး)

23/2/12

Stamp
ရုံးတံဆိပ်

DIRECTORATE OF TRADE
Export Import Policy & Registration Division
No.
Date 6.9.99

7. Extension of Export/Import Registration Period ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင် မှတ်ပုံတင်အား သက်တမ်းတိုးမြှင့်ပေးခြင်း

Period Extended
သက်တမ်းတိုးမြှင့်သည့်ကာလ

Authorised Signature & Name
ခွင့်ပြုသူလက်မှတ်နှင့်အမည်

XXXXX XXXXX XXXXX

(1) 5-8-2011 up to 4-2-2012 (HLA TUN-ASSISTANT ASSISTANT DIRECTOR)
နေ့မှ ထိ

(2) 23. 2. 2012 up to 30. 9. 2014 (လက်ထောက်ညွှန်ကြားရေးမှူး)
Correct 3/2 နေ့မှ ထိ
23.2.12

(3) ........ up to ........
နေ့မှ ထိ

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ငွေကမ္ဘာမြန်မာ ကုမ္ပဏီ လီမိတက်
၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

NGWE KABAR MYANMAR COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ငွေကမ္ဘာမြန်မာ ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏ အမည်သည် " ငွေကမ္ဘာမြန်မာ ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ, တည်ငွေရင်းမှာ ကျပ် ၅၀၀၀၀၀၀၀၀ /- (ကျပ် သန်းငါးရာ တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀/- (ကျပ် တစ်သိန်း တိတိ)တန် အစုရှယ်ယာပေါင်း ( ၅၀၀၀ )ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်း ချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

# စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်များနှင့်ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း။

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း။

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း။

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း။

(င) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း။

(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း။

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့်သုတ်ဆေးများ ထုတ်လုပ်ခြင်း။

(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဌ) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဍ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း။

(ဎ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊

၂။ အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်၊

၃။ ကုမ္ပဏီမှသင့်လျော် လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်၊

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

(၁) နိုင်ငံတော်အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

✓ (က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်, ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊ ✓

✓ (ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း။ ✓

~~(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊~~

✓ (ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊ ✓

~~(င) ဓာတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊~~

~~(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊~~

~~(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊~~

~~(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဌ) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဍ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊~~

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

တ်ဆိုင်ရာ ၁၀ နံကြီးဌာန၏ ခွင့်ပြုချက်အရ မြန်မာနိုင်ငံတွင်း သတ္တုများကို တူးဖော်ထုတ်လုပ်ခြင်း
ှင့်/သို့မဟုတ် အဆိုပါထုတ်လုပ်မှုလုပ်ငန်းများကို ထုတ်လုပ်မှုအပေါ်၌ ခွဲဝေခံစားမှုစနစ်ဖြင့်
ဆောင်ရွက်ရန်နှင့် ပြည်တွင်းပြည်ပ၌ ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်ရန်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁ | ဦး စိုင်း သန်း အောင် (ကုန်သည်)<br>အမှတ် ၃ ရ၊ အကွက်အမှတ် ၃ ၀<br>ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၂/မရက<br>(နိုင်) ၁၂၂၅၁၉ | ၅၀၀ | |
| ၂ | ဒေါ် နန်း ယဉ် (ကုန်သည်)<br>အမှတ် ၃ ရ၊ အကွက်အမှတ် ၃ ၀<br>ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၂/မရက (နိုင်)<br>၁၂၂၅၂၀ | ၅၀၀ | |
| ၃ | ဦး စိုင်း ဆိုင် (ကုန်သည်)<br>အမှတ် ၃ ရ၊ အကွက်အမှတ် ၃ ၀၊<br>ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၃/တခန (နိုင်)<br>၁၃၄၉၉၆ | ၂၀ | |
| ၄ | ဦး စိုင်း မွန်ရှ (ကုန်သည်)<br>အမှတ် ၃ ရ၊ အကွက်အမှတ် ၃ ၀<br>ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၂/မရန (နိုင်)<br>၀၀၀၁၁၅ | ၂၀ | |
| ၅ | ဒေါ် နန်း ခမ်း အုံ (ကုန်သည်)<br>အမှတ် ၃ ရ၊ အကွက်အမှတ် ၃ ၀<br>ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ<br>၁၃/တကန (နိုင်)<br>၀၀၃၀၄၉ | ၂၀ | |
| ၆ | ဒေါ် စုဝေနှင်း (ကုန်သည်)<br>အမှတ် ၃ ရ၊ အကွက်အမှတ် ၃ ၀၊<br>ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ | ၂၀ | |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇွန် လ၊ ၃ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

(ခင်မာအေး)
ဘီကွန်း (အေ အေ)၊ စီ ပီ အေ
လက်မှတ်ရ ပြည်သူ့စာရင်းကိုင်

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၆ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

| | | |
|---|---|---|
| (၁) ဦး စိုင်း သန်း အောင် | - | မြန်မာ |
| (၂) ဒေါ်နန်း ယဉ် | - | မြန်မာ |
| (၃) ဦး စိုင်း ဆိုင် | - | မြန်မာ |
| (၄) ဦး စိုင်း မွန် | - | မြန်မာ |
| (၅) ဒေါ်နန်း ခမ်း အုံ | - | မြန်မာ တို့ဖြစ်ကြပါသည်။ |
| (၆) ဒေါ်ဆု ဝေနှင်း | - | မြန်မာ |

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥဏ္ဏာပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာ ဦးရေသတ်မှတ်ခြင်း တို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေ အတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၇၃။ ဒါရိုက်တာ အားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၇၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ–

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၄င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေ**မန်နေဂျာသည်** လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး **မန်နေဂျင်း ဒါရိုက်တာအား**တာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၄င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ **စာရင်းစစ်များကို** ခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ **သို့မဟုတ်** အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စိတ်ကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁ | ဦးစိုင်းသန်းအောင် (ကုန်သည်) အမှတ် ၃၇၊ အကွက်အမှတ် ၃၀၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ ၁၂/မရက(နိုင်) ၁၂၂၅၁၉ | ၅၀၀ | (လက်မှတ်) |
| ၂ | ဒေါ်နန်းယဉ် (ကုန်သည်) အမှတ် ၃၇၊ အကွက်အမှတ် ၃၀၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ ၁၂/မရက(နိုင်) ၁၂၂၅၂၀ | ၅၀၀ | (လက်မှတ်) |
| ၃ | ဦးစိုင်းဆိုင် (ကုန်သည်) အမှတ် ၃၇၊ အကွက်အမှတ် ၃၀ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ ၁၃/တခန(နိုင်) ၁၃၄၉၉၆ | ၂၀ | (လက်မှတ်) |
| ၄ | ဦးစိုင်းမွန် (ကုန်သည်) အမှတ် ၃၇၊ အကွက်အမှတ် ၃၀ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ ၁၂/မရန(နိုင်) ၀၀၀၁၁၅ | ၂၀ | (လက်မှတ်) |
| ၅ | ဒေါ်နန်းခမ်းအုံ (ကုန်သည်) အမှတ် ၃၇၊ အကွက်အမှတ် ၃၀ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ ၁၃/တကန(နိုင်) ၀၀၃၈၄၉ | ၂၀ | (လက်မှတ်) |
| ၆ | ဒေါ်ဆုဝေနှင်း (ကုန်သည်) အမှတ် ၃၇၊ အကွက်အမှတ် ၃၀၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။ | မြန်မာ | ၂၀ | (လက်မှတ်) |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၉ ခုနှစ်၊ [illegible] လ၊ ၃ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

(စင်မာအေး)
ဘီကွမ်း (အေ အေ)၊ ဗီ ဗီ အေ
လက်မှတ်ရ ပြည်သူ့ စာရင်းကိုင်

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

## ငွေကမ္ဘာမြန်မာ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ (၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့် ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ, တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ, တည်ငွေရင်းမှာ ကျပ် ၅၀၀၀၀၀၀၀၀ /- (ကျပ် သန်းငါးရာ တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀ /- (ကျပ် တစ်သိန်း တိတိ)တန် အစုရှယ်ယာပေါင်း ( ၅၀၀၀ )ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကို ဆောင်ရွက်နိုင်သည်။

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# NGWE KABAR MYANMAR COMPANY LIMITED



I. The name of the Company is **NGWE KABAR MYANMAR COMPANY LIMITED.**

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 500000000 /- ( Kyats Five Hundred Million Only ) divided into ( 5000 ) shares of Ks. 100000 /- ( Kyats One Hundred Thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

# Objectives of Industry and Manufacturing

1. To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in Joint-venture with any local or foreign partners.
   (a) Growing, producing, harvesting, preserving, packing, milling and manufacturing of agricutural and farm products.
   (b) Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber (excluding teak) and forest products.
   (c) Livestock breeding, processing and canning of livestock products.
   (d) Fishing, preserving, milling, canning and processing of marine products.
   (e) Producing fertilizers, insecticides and animal feeds.
   (f) Manufacturing of personal goods.
   (g) Manufacturing of household goods.
   (h) Manufacturing of vehicles, machineries and spares.
   (i) Manufacturing of arts and crafts, lacquerwares and furniture.
   (J) Manufacturing of construction materials and paints.
   (k) Manufacturing of factory utencils.
   (1) Manufacturing of electrical and electronic goods.
   (m) Manufacturing of textile, garments and clothings.
   (n) To carry on the business of exploration, exploitation, production, processing of minerals and marketing of its products with the permission of the Government.
2. To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.
3. To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manner that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union ofMyanmar or elsewhere, save in so for as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union ofMyanmar for the time being in force

To carry on the business of manufacturing, growing, milling and preserving etc; of the following commodities permitted by the Government, either solely on its own or in joint-venture with any local or foreign partners.

✓ (a) Growing, producing, harvesting, preserving, packaging, milling and manufacturing of agricultural and farm produces.

~~(b) Felling, extracting (with the permission from the authorities concerned), milling manufacturing, preserving and seasoning of timber (excluding teak) and forest products.~~

~~(c) Livestock breeding, processing and canning of livestock products.~~

✓ (d) Fishing, preserving, milling, canning and processing of marine products.

✓ (e) Producing fertilizers, insecticides and animal feeds.

~~(f) Manufacturing of personal goods.~~

~~(g) Manufacturing of household goods.~~

~~(h) Manufacturing of vehicles, machineries and spares.~~

~~(i) Manufacturing of Arts and crafts, lacquerwares and furniture.~~

~~(j) Manufacturing of construction materials and paints.~~

~~(k) Manufacturing of factory utencils.~~

~~(l) Manufacturing of electrical and electronic goods.~~

~~(m) Manufacturing of medicines.~~

~~(n) Manufacturing of textile, garments and clothings.~~

(o) *

To import machinery, spare parts, raw materials and others necessary for those activities mentioned above and to sell wholesale and retail finished and semi-finished products locally and abroad.

To carry on the business of construction works and to import machinery, spare parts and other construction materials necessary for the above mentioned activities.

To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

*Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

The business of Production, and /or to carry on such activities under the [illegible] Contract and marketing Locally and abroad relating to the minerals of Myanmar, with the permission of the Ministry Concerned.

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# NGWE KABAR MYANMAR COMPANY LIMITED



The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

The Company is to be a Private Company and accordingly following provisions shall have effect : -

(a) *The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

(b) *Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

The Authorised Capital of the Company is Ks. 1000000000/- (Kyats Five Hundred Million Only) divided into ( 5000 ) shares of K. 100000 /- (Kyats One Hundred Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Direcotrs, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Sai Than Aung (Merchant) No.37, Block No.30, Shw Pyi Thar Township, Yangon. | Myanmar 12/MaYaKa(Naing) 122519 | 500 | |
| 2 | Daw Nan Yin (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon | Myanmar 12/MaYaKa(Naing) 122520 | 500 | |
| 3 | U Sai Seng (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon | Myanmar 13/TaKhaNa (Naing)134996 | 20 | |
| 4 | U Sai Mon (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon | Myanmar 12/MaYaNa (Naing) 000115 | 20 | |
| 5 | Daw Nan Kham Ohn (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon. | Myanmar 13/TaKaNa (Naing)003849 | 20 | |
| 6. | Daw Su Wai Hnin (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon. | Myanmar | 20 | |

Yangon. Dated the 3 day of June , 1999.

*It is hereby certified that the persons mentioned above put their signatures in my presence.*

( KHIN MAR AYE )
B.Com. ( A.A. ), C.P.A.
CERTIFIED PUBLIC ACCOUNTANT.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 6 ).

The First Directors shall be:-

(1) U Sai Than Aung - Myanmar

(2) Daw Nan Yin - Myanmar

(3) U Sei Seng - Myanmar

(4) U Sai Mon - Myanmar

(5) Daw Nan Kham Ohn - Myanmar

(6) Daw Su Wai Hnin - Myanmar

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors,duly called,held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures, or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws, for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organisation of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital (not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to:-

*(1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.



We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N. R. C. No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | U Sai Than Aung (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon. | Myanmar 12/MaYaKa(Naing) 122519 | 500 | [signature] |
| 2 | Daw Nan Yin (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon. | Myanmar 12/MaYaKa (Naing)122520 | 500 | [signature] |
| 3 | U Sai Seng (Merchant) No.37, Block No.30,Shwe Pyi Thar Township, Yangon. | Myanmar 13/TaKhaNa (Naing)134996 | 20 | [signature] |
| 4 | U Sai Mon (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon | Myanmar 12/MaYaNa (Naing)000115 | 20 | [signature] |
| 5 | Daw Nan Kham Ohn (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon. | Myanmar 13/TaKaNa (Naing)003849 | 20 | [signature] |
| 6 | Daw Su Wai Hnin (Merchant) No.37, Block No.30, Shwe Pyi Thar Township, Yangon. | Myanmar | 20 | [signature] |

Yangon. Dated the 8 day of June , 1999.

*It is hereby certified that the persons mentioned above put their signatures in my presence.*

[signature]

**(KHIN MAR AYE)**
B.Com, (A.A.), C.P.A.
CERTIFIED PUBLIC ACCOUNTANT